ပုံစံ (၃)

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
# ခွင့်ပြုမိန့်

**ခွင့်ပြုမိန့်အမှတ်** ၁၄၇/၂၀၁၉ ၂၀၁၉ ခုနှစ်၊ မတ်လ ၁၄ ရက်

**မြန်မာနိုင်ငံနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေ ဥပဒေပုဒ်မ ၂၅ (ဂ) အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည် -**

(၁) **ရင်းနှီးမြှုပ်နှံသူ/ ကမကထပြုသူအမည်** ဦးစိုးမြင့်

(၂) **နိုင်ငံသား** မြန်မာ

(၃) **နေရပ်လိပ်စာ** အမှတ်-၁၊ဇောတိကလမ်း၊၁၆/၂ရပ်ကွက်၊သဃ်န်းကျွန်းမြို့နယ်၊ ရန်ကုန်မြို့

(၄) **ပင်မအဖွဲ့အစည်းအမည်နှင့်လိပ်စာ** -

(၅) **ဖွဲ့စည်းရာအရပ်** -

(၆) **ရင်းနှီးမြှုပ်နှံသည့်လုပ်ငန်းအမျိုးအစား** ပလတ်စတစ်ပစ္စည်းအမျိုးမျိုးထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း(ပလတ်စတစ်ဖျာ၊ဆောက်လုပ်ရေးနှင့်စိုက်ပျိုးရေးလုပ်ငန်းသုံးပိုက်ကွန်၊ပလတ်စတစ်ဖြူကြိုးနှင့်ပီနံချပ်အမျိုးမျိုး)

(၇) **ရင်းနှီးမြှုပ်နှံသည့်အရပ်ဒေသ(များ)** မြေကွက်အမှတ်-၁၆၊ မြေတိုင်းရပ်ကွက်အမှတ်- ၁၁၂၊ စက်မှုဇုန်၊ ဒဂုံမြို့သစ်(အရှေ့ပိုင်း)မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး

(၈) **နိုင်ငံခြားမတည်ငွေရင်းပမာဏ** -

(၉) **နိုင်ငံခြားမတည်ငွေရင်းယူဆောင်လာရမည့်ကာလ** -

(၁၀) **စုစုပေါင်း မတည်ငွေရင်းပမာဏ(ကျပ်)** ကျပ် ၈,၅၄၈.၉၄ သန်း (အမေရိကန်ဒေါ်လာ ၀.၅၃၃ သန်းအပါအဝင် စုစုပေါင်း ကျပ်ရှစ်ထောင့်ငါးရာလေးဆယ့်ရှစ်သန်းနှင့် ကိုးသိန်းလေးသောင်းခန့်)

(၁၁) **တည်ဆောက်မှုကာလ** ၂ နှစ်

(၁၂) **ရင်းနှီးမြှုပ်နှံမှုခွင့်ပြုသည့်သက်တမ်း** -

(၁၃) **ရင်းနှီးမြှုပ်နှံမှုပုံစံ** ရာခိုင်နှုန်းပြည့် မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု

(၁၄) **မြန်မာနိုင်ငံတွင်ဖွဲ့စည်းမည့်ကုမ္ပဏီအမည်** လင်းညီအစ်ကိုကုမ္ပဏီလီမိတက်

Thaung Tun

**(သောင်းထွန်း)**
**ဥက္ကဋ္ဌ**

Form (3)

P000060

# THE REPUBLIC OF THE UNION OF MYANMAR

Myanmar Investment Commission

## PERMIT

Permit No. 147/2019 Dated 16 March 2019

This Permit is issued by the Myanmar Investment Commission according to the section 25 (c) of the Myanmar Investment Law-

(1) Name of Investor U SOE MYINT

(2) Citizenship MYANMAR

(3) Residence Address NO.1, ZAWTIKA STREET,WARD NO. 16/2, THINGANGYUN TOWNSHIP, YANGON

(4) Name and Address of Principle Organization -

(5) Place of Incorporation -

(6) Type of Business PRODUCTION AND MARKETING OF PLASTIC PRODUCT (PLASTIC MAT, PLASTIC NETS, PLASTIC FILM, WOVEN READY MADE SHEET ETC.)

(7) Place(s) at which investment is permitted PLOT NO.16, MYAY TAING BLOCK NO-112, INDUSTRIAL ZONE, DAGON MYO THIT (EAST) TOWNSHIP, YANGON REGION

(8) Amount of Foreign Capital -

(9) Period for Foreign Capital to be brought in -

(10) Total amount of capital (Kyat) 8,548.94 MILLION (INCLUDING US$ 0.533 MILLION)

(11) Construction Period 2 YEARS

(12) Validity of investment permit -

(13) Form of investment WHOLLY MYANMAR OWNED

(14) Name of Company incorporated in Myanmar LIN BROTHER COMPANY LIMITED

Thaung Tun

(Thaung Tun)
Chairman

Myanmar Investment Commission

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**
အမှတ်(၁)၊ သစ္စာလမ်း၊ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့
☎ ၀၁-၆၅၈၁၂၈
🖷 ၀၁-၆၅၈၁၄၁

စာအမှတ်၊မရက- ၃/ခ-၀၃၃/၂၀၁၉( ၀၃၃ )

ရက်စွဲ ၊ ၂၀၁၉ ခုနှစ် မတ်လ 16 ရက်

အကြောင်းအရာ။ **Lin Brother Company Limited ( လင်းညီအစ်ကိုကုမ္ပဏီလီမိတက်)၏ ပလတ်စတစ် ပစ္စည်းအမျိုးမျိုး ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း (ပလတ်စတစ်ဖျာ၊ ဆောက်လုပ်ရေးနှင့် စိုက်ပျိုးရေးလုပ်ငန်းသုံးပိုက်ကွန်၊ ပလတ်စတစ်ဖြူကြည်နှင့် ပီနံချပ်အမျိုးမျိုး) ၏အဆိုပြုချက်အပေါ် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ဆုံးဖြတ်ချက်**

ရည်ညွှန်းချက် ။ Lin Brother Company Limited (လင်းညီအစ်ကိုကုမ္ပဏီလီမိတက်) ၏ ၁၃-၁၂-၂၀၁၈ ရက်စွဲပါစာ

၁။ Lin Brother Company Limited (လင်းညီအကိုကုမ္ပဏီလီမိတက်) မှ မြေကွက်အမှတ်-၁၆၊ မြေတိုင်းရပ်ကွက်အမှတ်-၁၁၂၊ စက်မှုဇုန်၊ ဒဂုံမြို့သစ်(အရှေ့ပိုင်း)မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေဧရိယာ ၂.၀၂၀ ဧကတွင် ပလတ်စတစ်ပစ္စည်းအမျိုးမျိုး ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း (ပလတ်စတစ်ဖျာ၊ ဆောက်လုပ်ရေးနှင့် စိုက်ပျိုးရေးလုပ်ငန်းသုံးပိုက်ကွန်၊ ပလတ်စတစ်ဖြူကြည်နှင့်ပီနံချပ်အမျိုးမျိုး)အား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြခြင်းအား ၂၀၁၉ ခုနှစ် မတ်လ ၁၅ ရက် နေ့တွင်ကျင်းပပြုလုပ်သော မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၄/၂၀၁၉) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ ခွင့်ပြုကြောင်းဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေ၊ နည်းဥပဒေကို ကျင့်သုံးလျက် Lin Brother Company Limited (လင်းညီအစ်ကိုကုမ္ပဏီလီမိတက်) အား ပလတ်စတစ်ပစ္စည်းအမျိုးမျိုး ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း (ပလတ်စတစ်ဖျာ၊ ဆောက်လုပ်ရေးနှင့် စိုက်ပျိုးရေးလုပ်ငန်းသုံးပိုက်ကွန်၊ ပလတ်စတစ်ဖြူကြည်နှင့်ပီနံချပ်အမျိုးမျိုး) ဆောင်ရွက်နိုင်ရန်အတွက် ခွင့်ပြုမိန့်အမှတ်၊ ၁၄၇/၂၀၁၉ ကို ထုတ်ပေးလိုက်သည်။

၂။ Lin Brother Company Limited (လင်းညီအစ်ကိုကုမ္ပဏီလီမိတက်) အနေဖြင့် ဤခွင့်ပြုမိန့်အရ လုပ်ငန်းဆောင်ရွက်ရာတွင် အောက်ပါအချက်များကို လိုက်နာဆောင်ရွက်ရမည်-

(က) Lin Brother Company Limited (လင်းညီအစ်ကိုကုမ္ပဏီလီမိတက်) အနေဖြင့် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း (၁၈)၊ ပုဒ်မ ၇၅၊ ၇၇၊ ၇၈ အရ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ပြဋ္ဌာန်းထားသည့်အချက်များနှင့်အညီ ခံစားခွင့်ပြုနိုင်ရန် လျှောက်ထားနိုင်သည်။

(ခ) Lin Brother Company Limited (လင်းညီအစ်ကိုကုမ္ပဏီလီမိတက်) သည် ဤခွင့်ပြုမိန့်အရ **ထုတ်လုပ်မှုရည်မှန်းချက်များကိုအနိမ့်ဆုံး ရည်မှန်းချက်များအဖြစ်ထားရှိဆောင်ရွက်** အကောင်အထည်ဖော်ရမည်။

(ဂ) Lin Brother Company Limited (လင်းညီအစ်ကိုကုမ္ပဏီလီမိတက်) အနေဖြင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေ ပုဒ်မ ၆၅ နှင့် နည်း ဥပဒေအခန်း (၂၇) တို့တွင် ပြဋ္ဌာန်းထားသည့် ရင်းနှီးမြှုပ်နှံသူ၏ တာဝန်ဝတ္တရားများနှင့်အညီ လိုက်နာဆောင်ရွက်ရမည်။

(ဃ) Lin Brother Company Limited (လင်းညီအစ်ကိုကုမ္ပဏီလီမိတက်) သည် လုပ်ငန်းဆောင်ရွက်ရာတွင် သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေး ဝန်ကြီးဌာနမှ ပြဋ္ဌာန်းထုတ်ပြန်ထားပြီးဖြစ်သည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်း၊ အမျိုးသား ပတ်ဝန်းကျင်ဆိုင်ရာ အရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များတွင် ဖော်ပြပါရှိသည့် လိုက်နာဆောင်ရွက်ရမည့်အချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက်များနှင့် အညီလိုက်နာဆောင်ရွက်ရမည်။

(င) Lin Brother Company Limited (လင်းညီအစ်ကိုကုမ္ပဏီလီမိတက်) လုပ်ငန်းဆောင်ရွက်ရာတွင် မီးဘေးအန္တရာယ် မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် မီးဘေး အန္တရာယ် ထိန်းသိမ်းကာကွယ်ရေးစနစ်များကို ဝန်ခံကတိပြုထားသည့်အတိုင်း စနစ်တကျထားရှိဆောင်ရွက်ရမည်ဖြစ်ပြီး မီးသတ်ဦးစီးဌာန၏ နည်းဥပဒေများ၊ လုပ်ထုံးလုပ်နည်းများ၊ ညွှန်ကြားချက်များနှင့် အမိန့်များကိုတိကျစွာ လိုက်နာဆောင်ရွက်ရမည်။

(စ) Lin Brother Company Limited (လင်းညီအစ်ကိုကုမ္ပဏီလီမိတက်) သည် ရင်းနှီးမြှုပ်နှံမှုအား လုပ်ငန်းသက်တမ်းကာလအတွင်း အခြားပုဂ္ဂိုလ်တစ်ဦးဦးသို့ တစ်ဆင့်ငှားရမ်းခြင်း၊ ပေါင်နှံခြင်း၊ အစုရှယ်ယာလွှဲပြောင်းခြင်းနှင့် လုပ်ငန်းလွှဲပြောင်းခြင်းတို့ကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၇၂ နှင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုနည်းဥပဒေ ၁၉၁ အရ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြရမည်။

(ဆ) Lin Brother Company Limited (လင်းညီအစ်ကိုကုမ္ပဏီလီမိတက်) သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု နည်းဥပဒေ ၁၉၆ အရ နှစ်စဉ် ဘဏ္ဍာရေးနှစ် ကုန်ဆုံးပြီး နောက် သုံးလအတွင်း သတ်မှတ်ချက်ပါ အသေးစိတ်များ ပါရှိသည့်နှစ်စဉ်အစီရင်ခံစာ အားသတ်မှတ်ပုံစံဖြင့် ကုမ္ပဏီ၏ဝက်(ဘ်)ဆိုဒ် (သို့မဟုတ်) ကော်မရှင်ရုံး၏ဝက်(ဘ်) ဆိုဒ် သို့တင်ပြရမည်။

(ဓ) Lin Brother Company Limited (လင်းညီအစ်ကိုကုမ္ပဏီလီမိတက်) သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု နည်းဥပဒေ ၁၉၇ အရ လုပ်ငန်း ဆောင်ရွက်နေစဉ်အတွင်း လုပ်ငန်းအစီရင်ခံစာကို သုံးလလျှင် တစ်ကြိမ် ကော်မရှင်က သတ်မှတ်တောင်းခံသည့် ပုံစံဖြင့်တင်ပြရမည်။

၃။ Lin Brother Company Limited (လင်းညီအစ်ကိုကုမ္ပဏီလီမိတက်) သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၆၅ (ဃ) အရ သက်ဆိုင်သည့် ပြည်ထောင်စုဝန်ကြီးဌာနများ၊ အစိုးရဌာနနှင့် အဖွဲ့အစည်းများမှ လိုင်စင်သို့မဟုတ်ခွင့်ပြုမိန့်ရယူရန် လိုအပ်လျှင်ဖြစ်စေ၊ မှတ်ပုံတင်ရန်လိုအပ်လျှင် ဖြစ်စေ သက်ဆိုင်ရာဌာန၏ သတ်မှတ်ချက်နှင့်အညီ ဆောင်ရွက်ရမည်။

၄။ Lin Brother Company Limited (လင်းညီအစ်ကိုကုမ္ပဏီလီမိတက်) သည် အဆိုပြုလုပ်ငန်း ကိုအကောင်အထည်ဖော် ဆောင်ရွက်ရာတွင် လုပ်ငန်းသဘာဝအရဖြစ်စေ၊ အခြားလိုအပ်ချက်အရဖြစ်စေ သက်ဆိုင်သည့် ပြည်ထောင်စုဝန်ကြီးဌာနများ၊ အစိုးရဌာနနှင့် အဖွဲ့အစည်းများမှလိုင်စင် သို့မဟုတ် ခွင့်ပြုမိန့်ရယူရန် လိုအပ်လျှင်ဖြစ်စေ၊ မှတ်ပုံတင်ရန် လိုအပ်လျှင်ဖြစ်စေ သက်ဆိုင်ရာဌာန၏ သတ်မှတ်ချက်များနှင့်အညီ ဆောင်ရွက်ပြီး မိတ္တူ (၅)စုံစီအား ကော်မရှင်သို့ ပေးပို့ရမည်။

(သောင်းထွန်း)
ဥက္ကဋ္ဌ

**Lin Brother Company Limited (လင်းညီအစ်ကိုကုမ္ပဏီလီမိတက်)**
**ဖြန့်ဝေခြင်း**
ပြည်ထဲရေးဝန်ကြီးဌာန
ပြည်ထောင်စုအစိုးရအဖွဲ့ရုံးဝန်ကြီးဌာန
သယံဇာတနှင့် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးဝန်ကြီးဌာန
အလုပ်သမား၊လူဝင်မှုကြီးကြပ်ရေးနှင့်ပြည်သူ့အင်အားဝန်ကြီးဌာန
စက်မှုဝန်ကြီးဌာန
စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန
စီမံကိန်းနှင့် ဘဏ္ဍာရေးဝန်ကြီးဌာန
ရင်းနှီးမြှုပ်နှံမှုနှင့်နိုင်ငံခြားစီးပွားဆက်သွယ်ရေးဝန်ကြီးဌာန
ရန်ကုန်တိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုကော်မတီ
ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေး ဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ အမျိုးသားမှတ်တမ်းများ မော်ကွန်းတိုက်ဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန်ဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
ရန်ကုန်တိုင်းဒေသကြီးဦးစီးမှူးရုံး၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန

## လင်းညီအကိုကုမ္ပဏီလီမိတက် (Lin Brother Company Limited) နှင့် စပ်လျဉ်း၍ လုပ်ငန်းဆောင်ရွက်မှုမှတ်တမ်း

| စဉ် | ဆောင်ရွက်သည့် အကြောင်းအရာ | ဆောင်ရွက်သည့် ရက်စွဲ | အကြောင်းပြန်ကြားသည့် ရက်စွဲ/ကုမ္ပဏီမှတင်ပြသည့်ရက်စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုချက်တင်ပြလာခြင်း | ၁၃-၁၂-၂၀၁၈ | | |
| ၂ | လုပ်ငန်းလိုအပ်ချက်အရသယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေး ဝန်ကြီးဌာနသို့ သဘောထားတောင်းခံခြင်း | ၂-၁-၂၀၁၈ | ၉-၁-၂၀၁၈ | |
| ၃ | စက်မှုဝန်ကြီးဌာနသို့သဘောထား တောင်းခံခြင်း | ၂-၁-၂၀၁၈ | ၁၆-၁-၂၀၁၈ | |
| ၄ | ကုမ္ပဏီမှ လိုအပ်ချက်များ ပြန်လည် ပေးပို့ခြင်း | ၁၀-၁-၂၀၁၉ | | |
| ၅ | ကုမ္ပဏီသို့ လက်ခံကြောင်း ပြန်ကြားခြင်း | ၂၂-၁-၂၀၁၉ | | |
| ၆ | အဆိုပြုချက်အားကော်မရှင် အစည်းအဝေးသို့ တင်ပြခြင်း | ၁၅-၃-၂၀၁၉ | | |
| | **စုစုပေါင်းကြာမြင့်ရက်** | **(၉၂)ရက်** | | |

အကြောင်းအရာ။ **မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Lin Brother Co., Ltd. မှ ပလတ်စတစ်ပစ္စည်းအမျိုးမျိုး ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း (ပလတ်စတစ်ဖျာ၊ ဆောက်လုပ်ရေးနှင့် စိုက်ပျိုးရေးလုပ်ငန်းသုံးပိုက်ကွန်၊ ပလတ်စတစ်ဖြူကြည်နှင့် ပီနံချပ်အမျိုးမျိုး) ကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြခြင်းကိစ္စ**

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ | - Lin Brother Co., Ltd. |
| | ရင်းနှီးမြှုပ်နှံသူ | - ဦးစိုးမြင့် |
| | ရင်းနှီးမြှုပ်နှံမှုပုံသဏ္ဌာန် | - မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု<br>- ဦးစိုးမြင့် (မြန်မာ) ၇၀ %<br>- ဒေါ်ညွန့်ညွန့်ရီ (မြန်မာ) ၁၀ %<br>- ဦးလင်းလင်းကျော်မျိုး (မြန်မာ) ၁၀%<br>- ဦးထက်လင်းမော် (မြန်မာ) ၁၀% |
| | လုပ်ငန်းအမျိုးအစား | - ပလတ်စတစ် ပစ္စည်းအမျိုးမျိုး ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း (ပလတ်စတစ်ဖျာ၊ ဆောက်လုပ်ရေးနှင့် စိုက်ပျိုးရေးလုပ်ငန်းသုံး ပိုက်ကွန်၊ ပလတ်စတစ်ဖြူကြည်နှင့် ပီနံ ချပ်အမျိုးမျိုး) |
| ၂။ | တည်နေရာ | - မြေကွက်အမှတ်-၁၆၊ မြေတိုင်းရပ်ကွက်အမှတ်-၁၁၂၊ စက်မှုဇုန်၊ ဒဂုံမြို့သစ်(အရှေ့ပိုင်း)မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး |
| ၃။ | မြေပိုင်ရှင် | - ဒေါ်ညွန့်ညွန့်ရီ |
| | မြေ/အဆောက်အဦ<br>အကျယ်အဝန်း | - မြေဧရိယာ၂.၀၂၀ဧက (၈၁၇၄.၆၅၇၂စတုရန်းမီတာ)<br>သံကူကွန်ကရစ် အဆောက်အဦ ၁၀လုံး |
| | နှစ်စဉ်မြေ/အဆောက်အဦ<br>ငှားရမ်းခ | - ဒါရိုက်တာအဖွဲ့ဝင် မြန်မာနိုင်ငံသား ဒေါ်ညွန့်ညွန့်ရီ၏ ကိုယ်ပိုင် မြေတွင် လုပ်ငန်းဆောင်ရွက်ခြင်းဖြစ်ပါသည်။ |
| ၄။ | တည်ဆောက်မှုကာလ/<br>ပြင်ဆင်မှုကာလ | - ၂နှစ် |
| ၅။ | စုစုပေါင်းမတည်ငွေရင်း | ကျပ် ၈,၅၄၈.၉၃၇ သန်း |
| | ထည့်ဝင်သည့်အမျိုးအစား | **- ကျပ် (သန်း)** |
| | ငွေသား | ၆၀၅၃.၈၃၇ |
| | စက်ပစ္စည်း(ပြည်ပ) | ၇၉၉.၅၀၀ |
| | အဆောက်အဦကုန်ကျစရိတ် | ၁,၆၉၅.၆၀၀ |
| | **စုစုပေါင်း** | **၈၅၄၈.၉၃၇** |

၆။ ရောင်းချမည့်နည်းစနစ်

- ၁၀၀% ပြည်တွင်းရောင်းချခြင်း

၇။ ထုတ်လုပ်မှုနှင့် ရောင်းဈေးနှုန်း (ပထမနှစ်)

| | ထုတ်လုပ်မှု | ရောင်းဈေးနှုန်း(ကျပ်) |
|---|---|---|
| ဖျာကြီး (၆ပေx၆ပေ) (ချပ်) | ၂၀၄,၇၀၀ | ၃,၆၁၃ |
| ဖျာလတ်(၄ပေx၆ပေ) (ချပ်) | ၁၁၃,၇၀၀ | ၂,၂၁၀ |
| ဖျာသေး(၃ပေx၆ပေ) (ချပ်) | ၁၂၉,၆၀၀ | ၁,၈၂၈ |
| ဇင်းမယ်ဖျာကြီး(၆ပေx၆ပေ)(ချပ်) | ၂၇၆,၃၀၀ | ၃,၆၁၃ |
| ဇင်းမယ်ဖျာသေး(၃ပေx၆ပေ)(ချပ်) | ၆၉,၉၀၀ | ၁,၈၇၀ |
| ပိုက်ကွန်(၁၂ပေ x ၉၀ပေ)လိပ် | ၁၄၆,၇၂၀ | ၂၁,၆၇၅ |
| ပိုက်ကွန်(၃ပေ x ၉၀ပေ)လိပ် | ၁၄၆,၇၂၀ | ၄,၉၃၀ |
| ဖြူကြည်(ပေါင်) | ၃,၆၀၈,၄၀၀ | ၉၁၀ |
| ပီနံချပ်(၁၅ပေ x ၁၅ပေ) (ချပ်) | ၄၅၀,၀၀၀ | ၈,၃၉၄ |
| ပီနံချပ်(၁၈ပေ x ၁၈ပေ) (ချပ်) | ၃၁၃,၀၀၀ | ၁၂,၀၈၇ |
| ပီနံချပ်(၂၁ပေ x ၂၁ပေ) (ချပ်) | ၂၂၉,၀၀၀ | ၁၆,၄၅၂ |

၈။ အခြားတင်ပြချက်

| | ပြည်တွင်း(ကျပ်) | ပြည်ပ(USD) |
|---|---|---|
| **ဝန်ထမ်းဦးရေ** | ၂၁၅ | ၃ |
| **အမြင့်ဆုံးလစာ** | ၁,၂၀၀,၀၀၀ | ၁၀၀၀ |
| **အနိမ့်ဆုံးလစာ** | ၁၅၀,၀၀၀ | |

- Lin Brother Co., Ltd. ၏ ကုမ္ပဏီမှတ်ပုံတင်လက်မှတ် အမှတ်- 107526161 နှင့် ငွေကြေးအထောက် အထားအဖြစ် ဦးထက်လင်းမော် သည်(၆-၁၂-၂၀၁၈)ရက်စွဲဖြင့် Myanma Apex Bank တွင် ကျပ် ၈၃၄,၃၂၄,၁၈၆.၃၈ ရှိ ကြောင်းအထောက်အထား တင်ပြထားပါသည်။
- ထုတ်လုပ်မည့်ကုန်ပစ္စည်းများကို Diamond နှင့် Super ကုန်အမှတ်တံဆိပ်ဖြင့် ထုတ်လုပ်ပြီး၊ ၎င်းတံဆိပ်များ မှတ်ပုံတင်ထားသည့် အထောက်အထားများ တင်ပြထားပါသည်။
- ပတ်ဝန်းကျင်ထိန်းသိမ်းရေးစီမံချက်၊ ဝန်ထမ်းသက်သာချောင်ချိရေးအစီ အစဉ်၊ Corporate Social Responsibility (CSR) အတွက် ဆောင်ရွက် မည့်အစီအစဉ်နှင့် မီးဘေးကာကွယ်ရေးစီမံချက်များ တင်ပြထားပါသည်။

| | | |
|---|---|---|
| ၉။ | စိစစ်တင်ပြချက် | - အဆိုပြုလုပ်ငန်းသည် ရင်းနှီးမြှုပ်နှံမှု ဦးစားပေးမြှင့်တင်မည့် ကဏ္ဍ တွင် ပါဝင်ပြီး ISIC Code. 2220 တွင် အကျုံးဝင်ပါသည်။<br>- **အဆိုပြုလုပ်ငန်းသည် ပြည်ပသွင်းကုန်အစားထိုးလုပ်ငန်း ဖြစ်သည့်အတွက် ပြည်ပမှ တင်သွင်းသည့် ပလတ်စတစ် ပစ္စည်းများကို ပြည်တွင်း၌ ဈေးနှုန်းသက်သာစွာဖြင့် ထုတ်လုပ်ရောင်းချနိုင်ရန် ရည်ရွယ်တင်ပြလာခြင်းဖြစ်ပါသည်။**<br>- စက်ပစ္စည်းများကို တရုတ်နိုင်ငံနှင့် အိန္ဒိယနိုင်ငံတို့မှ တင်သွင်းမည် ဖြစ်ပြီး ကုန်ကြမ်းများကို တရုတ်၊ ထိုင်း၊ ကိုးရီးယားစသည့် နိုင်ငံတို့မှ တင်သွင်းမည်ဖြစ်ကြောင်း တင်ပြထားပါသည်။ |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊မရက-၃/ခ-၀၃၃/၂၀၁၉(၀၂၂)

ရက်စွဲ ၊ ၂၀၁၉ ခုနှစ် ဇန်နဝါရီလ ၂၄ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့**
**တင်ပြသည့် အမှာစာ**

အကြောင်းအရာ။ **မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Lin Brother Co., Ltd.မှပလတ်စတစ်ပစ္စည်းအမျိုးမျိုး ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း (ပလတ်စတစ်ဖျာ၊ ဆောက်လုပ်ရေးနှင့် စိုက်ပျိုးရေးလုပ်ငန်းသုံးပိုက်ကွန်၊ ပလတ်စတစ်ဖြူကြည်နှင့် ပီနံချပ်အမျိုးမျိုး) ကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြခြင်းကိစ္စ**

၁။ မြန်မာနိုင်ငံသား ဦးစိုးမြင့်မှ ၇၀%၊ ဒေါ်ညွန့်ညွန့်ရီမှ ၁၀%၊ ဦးလင်းလင်းကျော်မျိုးမှ ၁၀%နှင့် ဦးထက်လင်းမော်မှ ၁၀% ထည့်ဝင်၍ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Lin Brother Co., Ltd. မှ မြေကွက်အမှတ်-၁၆၊ မြေတိုင်းရပ်ကွက်အမှတ်-၁၁၂၊ စက်မှုဇုန်၊ ဒဂုံမြို့သစ် (အရှေ့ပိုင်း) မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေဧရိယာ (၂.၀၂၀) ဧကတွင် ပလတ်စတစ်ပစ္စည်းအမျိုးမျိုးထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း (ပလတ်စတစ်ဖျာ၊ ဆောက်လုပ်ရေးနှင့် စိုက်ပျိုးရေးလုပ်ငန်းသုံးပိုက်ကွန်၊ ပလတ်စတစ်ဖြူကြည် နှင့် ပီနံချပ်အမျိုးမျိုး) ကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက် တင်ပြလာပါသည်။

၂။ အဆိုပြုချက်နှင့် အတူမြေဆိုင်ရာအထောက်အထား၊ ထုတ်လုပ်သည့်လုပ်ငန်းစဉ်နှင့် ပစ္စည်းနမူနာ ဓာတ်ပုံများအားပူးတွဲတင်ပြထားပါသည်။ အဆိုပြုလုပ်ငန်းအား ရင်းနှီးမြှုပ်နှံသူ မြန်မာနိုင်ငံသားဒေါ်ညွန့်ညွန့်ရီပိုင်မြေတွင် လုပ်ငန်းဆောင်ရွက်ခြင်းဖြစ်ပြီး တည်ဆောက်ရေးကာလမှာ ၂ နှစ်ကြာမြင့်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၃။ လုပ်ငန်း၏ စုစုပေါင်း မတည်ငွေရင်းပမာဏမှာ ကျပ် ၈,၅၄၈.၉၃၇ သန်း ဖြစ်ပြီး ထည့်ဝင်မှုများမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| | (ကျပ်သန်း) |
|---|---|
| ငွေသား | ၆၀၅၃.၈၃၇ |
| စက်နှင့် စက်ပစ္စည်း (ပြည်ပ) | ၇၉၉.၅၀၀ |
| အဆောက်အဦကုန်ကျစရိတ် | ၁,၆၉၅.၆၀၀ |
| **စုစုပေါင်း** | **၈,၅၄၈.၉၃၇** |

၄။ လုပ်ငန်းဆောင်ရွက်ရန်အတွက်ပထမနှစ်တွင် ပြည်တွင်းဝန်ထမ်း ၂၁၅ ဦးနှင့် ပြည်ပဝန်ထမ်း ၃ ဦးခန့်ထားမည်ဖြစ်ပါသည်။ ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၁၅၀,၀၀၀ နှင့်

အမြင့်ဆုံးလစာမှာ ကျပ် ၁,၂၀၀,၀၀၀ ဖြစ်ပါသည်။ ပြည်ပဝန်ထမ်းတစ်ဦး၏ လစာမှာ အမေရိကန်ဒေါ်လာ ၁,၀၀၀ ဖြစ်ပါသည်။

၅။ လုပ်ငန်းမှထွက်ရှိသော ကုန်ချောများကို ပြည်တွင်း၌ ၁၀၀% ရောင်းချမည်ဖြစ်ပြီး ပထမနှစ်၌ ထုတ်လုပ်မှုအရေအတွက်နှင့် ရောင်းဈေးနှုန်းများမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| စဉ် | အမျိုးအစား | ရေတွက်ပုံ | ထုတ်လုပ်မှုအရေအတွက် | ရောင်းဈေးနှုန်း (ကျပ်) |
|---|---|---|---|---|
| (က) | ဖျာကြီး (၆ပေx၆ပေ) | ချပ် | ၂၀၄,၇၀၀ | ၃,၆၁၃ |
| (ခ ) | ဖျာလတ်(၄ပေx၆ပေ) | ချပ် | ၁၁၃,၇၀၀ | ၂,၂၁၀ |
| (ဂ ) | ဖျာသေး(၃ပေx၆ပေ) | ချပ် | ၁၂၉,၆၀၀ | ၁,၈၂၈ |
| (ဃ) | ဇင်းမယ်ဖျာကြီး(၆ပေx၆ပေ) | ချပ် | ၂၇၆,၃၀၀ | ၃,၆၁၃ |
| (င ) | ဇင်းမယ်ဖျာသေး(၃ပေx၆ပေ) | ချပ် | ၆၉,၉၀၀ | ၁,၈၇၀ |
| (စ) | ပိုက်ကွန်(၁၂ပေ x ၉၀ပေ) | လိပ် | ၁၄၆,၇၂၀ | ၂၁,၆၇၅ |
| (ဆ) | ပိုက်ကွန်(၃ပေ x ၉၀ပေ) | လိပ် | ၁၄၆,၇၂၀ | ၄,၉၃၀ |
| (ဇ) | ဖြူကြည် | ပေါင် | ၃,၆၀၈,၄၀၀ | ၉၁၀ |
| (ဈ) | ပီနံချပ်(၁၅ပေ x ၁၅ပေ) | ချပ် | ၄၅၀,၀၀၀ | ၈,၃၉၄ |
| (ည) | ပီနံချပ်(၁၈ပေ x ၁၈ပေ) | ချပ် | ၃၁၃,၀၀၀ | ၁၂,၀၈၇ |
| (ဋ) | ပီနံချပ်(၂၁ပေ x ၂၁ပေ) | ချပ် | ၂၂၉,၀၀၀ | ၁၆,၄၅၂ |

၆။ အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ သက်ဆိုင်ရာဌာနများမှ အောက်ပါအတိုင်း သဘောထားမှတ်ချက် ပြန်ကြားထားပါသည်-

(က) **ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့** မှ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းလုပ်ငန်း (Environmental Impact Assessment-EIA) နှင့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan-EMP) အား ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့် အညီအစီရင်ခံစာ ရေးသားတင်ပြရန် သဘောထားပြန်ကြားထားပါသည်။ **ကုမ္ပဏီမှ သဘောထားမှတ်ချက်နှင့်အညီ လိုက်နာဆောင်ရွက်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။** **နောက်ဆက်တွဲ(က)**

(ခ) **စက်မှုဝန်ကြီးဌာန** မှ အဆိုပြုလုပ်ငန်းအတွက် အသုံးပြုမည့် စက်ပစ္စည်းများနှင့် လေသန့်စင်စနစ်အတွက် အသုံးပြုမည့်စက်ပစ္စည်းများသည် လုပ်ငန်းနှင့်သင့်လျော်မှု ရှိကြောင်းသဘောထားပြန်ကြားထားပါသည်။ **နောက်ဆက်တွဲ(ခ)**

၇။ ငွေကြေးအထောက်အထားအဖြစ် ဦးထက်လင်းမော် သည်(၆-၁၂-၂၀၁၈)ရက်စွဲဖြင့် Myanma Apex Bank တွင် ကျပ် ၈၃၄,၃၂၄,၁၈၆.၃၈ ရှိကြောင်းအထောက်အထား တင်ပြထားပါသည်။

**စိစစ်တင်ပြချက်**

၈။ အောက်ပါအတိုင်းတင်ပြအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့်ဥပဒေရေးရာဌာနခွဲမှ ကော်မရှင်ခွင့်ပြုမိန့် နှင့် ဆုံးဖြတ်ချက် (မူကြမ်း) အား ဥပဒေနှင့် ညီညွတ်မှုရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။

(ခ) စက်ရုံ၌ အလုပ်သမားများအတွက် သက်သာချောင်ချိရေးအစီအစဉ်များ၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးစီမံချက်၊ လေသန့်စင်စနစ်၊ Corporate Social Responsibility (CSR) အတွက် ဆောင်ရွက်မည့်အစီအစဉ်နှင့် မီးဘေးကာကွယ်ရေးစီမံချက်များ တင်ပြထားပါသည်။

(ဂ) အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၂၀၁၈ ခုနှစ် ဒီဇင်ဘာလ ၂၄ ရက်နေ့တွင် ကျင်းပပြုလုပ်သော (၄၁/၂၀၁၈)ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြဆွေးနွေးခဲ့ပါသည်။

(ဃ) လုပ်ငန်းအတွက်လိုအပ်သည့် စက်ပစ္စည်းများကို တရုတ် နှင့် အိန္ဒိယနိုင်ငံမှ တင်သွင်းမည်ဖြစ်ပါသည်။ ကုန်ကြမ်းများကို တရုတ်၊ထိုင်းနှင့်ကိုရီးယားနိုင်ငံတို့မှ တင်သွင်း၍ ကုန်ချောများကို ပြည်တွင်း၌ Diamond နှင့် Super ကုန်အမှတ် တံဆိပ်ဖြင့်ရောင်းချမည်ဖြစ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၉။ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Lin Brother Co., Ltd. မှ ပလတ်စတစ်ပစ္စည်းအမျိုးမျိုးထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း (ပလတ်စတစ်ဖျာ၊ဆောက်လုပ်ရေးနှင့် စိုက်ပျိုးရေးလုပ်ငန်းသုံးပိုက်ကွန်၊ပလတ်စတစ်ဖြူကြည်နှင့်ပီနံချပ်အမျိုးမျိုး) ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုလွှာတင်ပြခြင်းကိစ္စနှင့် စပ်လျဉ်း၍ ခွင့်ပြုမိန့်ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ( )
(အောင်နိုင်ဦး၊အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ

ရန်ကုန်မြို့

နောက်ဆက်တွဲ-က

ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊ ၀၀၁/ MIC (OSS)/ ၀၁( ၀၂/၁၉ )
ရက်စွဲ၊ ၂၀၁၉ ခုနှစ်၊ ဇန်နဝါရီလ ၉ ရက်

သို့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

M-035
9/1/19

အကြောင်းအရာ။ **Lin Brother Company Limited မှ ဆောက်လုပ်ရေးနှင့် စိုက်ပျိုးရေးလုပ်ငန်းသုံး ပလတ်စတစ်ပစ္စည်းအမျိုးမျိုးထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် ကိစ္စနှင့်စပ်လျဉ်း၍ သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂-၁-၂၀၁၈ ရက်စွဲပါစာအမှတ်၊ မရက- ၃/ ခ-၀၃၃/ ၂၀၁၉(၀၀၂)

၁။ မြန်မာနိုင်ငံသား ဦးစိုးမြင့်မှ ၇၀%၊ ဒေါ်ညွန့်ညွန့်ရီမှ ၁၀%၊ ဦးလင်းလင်းကျော်မျိုးမှ ၁၀% နှင့် ဦးထက်လင်းမော်မှ ၁၀% အသီးသီးထည့်ဝင်၍ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Lin Brother Co., Ltd. မှ မြေကွက်အမှတ်- ၁၆၊ မြေတိုင်းရပ်ကွက်အမှတ်- ၁၁၂၊ စက်မှုဇုန်၊ ဒဂုံမြို့သစ် (အရှေ့ပိုင်း) မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေဧရိယာ ၃ ဧက (၁၂,၁၄၀.၅၇ စတုရန်းမီတာ) တွင် ဆောက်လုပ်ရေးနှင့် စိုက်ပျိုးရေးလုပ်ငန်းသုံး ပလတ်စတစ်ပစ္စည်းအမျိုးမျိုး ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းကို မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြလာခြင်းနှင့် စပ်လျဉ်း၍ စိစစ်ပြီး သဘောထားမှတ်ချက်ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါပေးပို့လာသော ရင်းနှီးမြှုပ်နှံမှုဆိုင်ရာအဆိုပြုလွှာအား စိစစ်ရာတွင် အောက်ပါအချက်များကို လေ့လာတွေ့ရှိရပါသည် -

(က) ပေးပို့လာသော အဆိုပြုလွှာတွင် ကနဦးရင်းနှီးမြှုပ်နှံမှုကာလမှာ (၁၀) နှစ်ဖြစ်ပြီး၊ တည်ဆောက်ရေးကာလမှာ (၂) နှစ် ဖြစ်ကြောင်း၊

(ခ) အဆိုပြုလုပ်ငန်းအား (၁၂,၁၄၀.၅၇ စတုရန်းမီတာ) ပေါ်တွင် လုပ်ငန်းအတွက် လိုအပ်သည့် သံကူကွန်ကရစ် အဆောက်အဦ (၁၀) လုံးတည်ဆောက်၍ လုပ်ငန်းများ ဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(ဂ) လုပ်ငန်းအတွက် နှစ်စဉ် ရေလိုအပ်ချက်အနေဖြင့် (၁) နှစ်လျှင် ပျမ်းမျှရေဂါလံ (၂၀၀၀၀၀) ခန့်လိုအပ်မည်ဖြစ်ပြီး အဆိုပါ ရေလိုအပ်ချက်အတွက် စည်ပင်ရေသုံးစွဲမှုမရှိဘဲ မြေအောက်ရေကိုသာ ထုတ်ယူ သုံးစွဲသွားမည် ဖြစ်ကြောင်း၊

(ဃ) အဆိုပြုလုပ်ငန်းအတွက် လိုအပ်သော ကုန်ကြမ်းပစ္စည်းများဖြစ်သည့် Poly Propylene Yarn အား 250 တန်၊ Poly Propylene recycle resin အား 1100 တန်၊ Hight Density Poly Ethylene အား 2000 တန်၊ Linear Low Density Poly Ethylene အား 1800 တန်၊ Low Density Poly Ethylene အား 360 တန်နှင့် PE Plastic woven sheet အား 4500 တန်၊ စုစုပေါင်း တန်ချိန် 10010 တင်သွင်း၍ လုပ်ငန်းများ ဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(င) ဝန်ထမ်းများ သက်သာချောင်ချိရေး အစီအစဉ်များ၊ မီးဘေး ကြိုတင်ကာကွယ်ရေး အစီအမံများကိုလည်းထားရှိ ဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(စ) လုပ်ငန်းမှရရှိလာမည့် အသားတင်အမြတ်ငွေ၏ (၂%) ကို လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) လုပ်ငန်းများတွင် ထည့်ဝင် အသုံးပြုသွားမည် ဖြစ်ကြောင်း၊

(ဆ) သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာနမှထုတ်ပြန်ထားသော ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံး/လုပ်နည်း၊ အမိန့်နှင့် ညွှန်ကြားချက်များကို လိုက်နာဆောင်ရွက်သွားမည်ဖြစ် ဖော်ပြပါရှိပါသည်။

၃။ လုပ်ငန်းလည်ပတ်ဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ အောက်ဖော်ပြပါ ပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်မှုများဖြစ်ပေါ်လာနိုင်ကြောင်း လေ့လာသုံးသပ်ရပါသည်-

ထွက်ရှိလာမည့်အခိုးအငွေ့များ၊ စွန့်ပစ်ပစ္စည်းများ၊ ဆူညံသံများမှ သဘာဝပတ်ဝန်းကျင်ကို ထိခိုက်နိုင်မှုရှိခြင်း၊ ပတ်ဝန်းကျင် ထိခိုက်မှု ပြဿနာများ ဖြစ်ပေါ်စေနိုင် ပါသည်။

(က) Lin Brother Company Limited မှ ဆောက်လုပ်ရေးနှင့်စိုက်ပျိုးရေးလုပ်ငန်းသုံးပလတ်စတစ်ပစ္စည်းအမျိုးမျိုးထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ရာတွင် အဆောက်အဦများတည်ဆောက်ရာ၌ မြေပြုပြင်ခြင်းနှင့် ဆောက်လုပ်ရေး လုပ်ငန်းခွင်မှ ထွက်ရှိလာမည့် ဖုန်မှုန့်များ၊ တုန်ခါမှုများ၊ လုပ်ငန်းသုံးယာဉ်/ ယန္တရားများမှ ထွက်ရှိလာမည့် စက်ဆီ၊ ချောဆီ၊ အခိုးအငွေ့များကြောင့် အနီးပတ်ဝန်းကျင်ရှိ လေထု၊ မြေထုနှင့် ရေထုညစ်ညမ်းမှုဖြစ်ပေါ် စေနိုင်ခြင်း၊

(ခ) တည်ဆောက်လုပ်ငန်းသုံး ယာဉ်ယန္တယားများနှင့် စက်ပစ္စည်းများမှထွက်ရှိလာမည့်စက်ဆီ၊ ချောဆီနှင့် စွန့်ပစ်ပစ္စည်းများကြောင့် ပတ်ဝန်းကျင်ရှိ မြေထု၊ ရေထုနှင့် လေထုညစ်ညမ်းခြင်း၊

(ဂ) အလုပ်သမားများ၏ စွန့်ပစ်ပစ္စည်းများနှင့် မိလ္လာအညစ်အကြေးများကြောင့် ပတ်ဝန်းကျင်ညစ်ညမ်းခြင်း၊

(ဃ) အဆိုပြုလုပ်ငန်းတွင် အသုံးပြုမည့် ကုန်ကြမ်း ပစ္စည်းများဖြစ်သည့် polyethylene နှင့် Silicon စသည့် ဓာတုပစ္စည်းများသည့် ဆွေးမြေ့ပျက်စီးရန် အချိန်ကြာမြင့်ခြင်း၊ ကုန်ကြမ်းပစ္စည်းများကို အသုံးပြုရာမှ ထွက်ရှိလာမည့် စွန့်ပစ်ပစ္စည်းများ၊ စွန့်ပစ်အရည်များကြောင့် ပတ်ဝန်းကျင်ရှိ မြေထုနှင့် ရေထုညစ်ညမ်းမှု ဖြစ်ပေါ်စေခြင်း၊ ပလတ်စတစ်သည် မီးလောင်ရန်လွယ်ကူသော ပစ္စည်းတစ်မျိုးဖြစ်ပြီး လုပ်ငန်းအဆင့်ဆင့်မှ ထွက်ပေါ်လာမည့် polymeric dust ကြောင့် လေထုညစ်ညမ်းခြင်းစသည့် ပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်မှု ပြဿနာများ ဖြစ်ပေါ် လာနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ Lin Brother Company Limited မှ ဆောက်လုပ်ရေးနှင့် စိုက်ပျိုးရေးလုပ်ငန်းသုံးပလတ်စတစ်ပစ္စည်းအမျိုးမျိုး ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စ

နှင့်စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ ဆောင်ရွက်ရမည့် လုပ်ငန်းများကို အောက်ပါအတိုင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းများ ကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့်ကျန်းမာရေး ထိခိုက်ပျက်စီးမှုများ ကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာအချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့်နည်းစနစ်များ အားအသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေးဆိုင်ရာ တာဝန်ခံဆောင် ရွက်မှု (Corporate Social Responsibility-CSR) အတွက်အသားတင် အမြတ်ငွေ၏ ၂% ကိုအသုံးပြုခြင်းအပါအဝင် ဆောင်ရွက်ပေးသွားမည့် ကတိကဝတ်များ ကိုတိတိကျကျ လိုက်နာအကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(ခ) အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ **ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (Environmental Impact Assessment-EIA)** ကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းအပိုဒ် (၄၉)၊ (၆၃) နှင့်အညီ ပြုစု ဆောင်ရွက်ရန်၊

(ဂ) ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်း အပိုဒ် ၄၅၊ ၄၆ တို့အရစီမံကိန်းအဆိုပြုသူသည် ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းလုပ်ငန်း **(Environmental Impact Assessment-EIA)** မစတင်မီ အဆိုပါလုပ်ငန်းကို ဆောင်ရွက်မည့် တတိယပုဂ္ဂိုလ် (သို့မဟုတ်) အဖွဲ့အစည်းနှင့် စပ်လျဉ်း၍ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန၏ ဆုံးဖြတ်ချက်ရယူရန်၊

(ဃ) ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်း အပိုဒ် ၄၇ မှ အပိုဒ် ၅၄ထိ ဖော်ပြချက်အရ စီမံကိန်းအဆိုပြုသူသည် နယ်ပယ်အတိုင်းအတာ သတ်မှတ်ခြင်းအစီရင်ခံစာနှင့်ဆောင်ရွက်မည့်လုပ်ငန်းတာဝန်များကို လမ်းညွှန်ချက်များနှင့်အညီ ဆောင်ရွက်သွားမည့် လုပ်ငန်းတစ်ခုချင်းအလိုက် လေ့လာဆန်းစစ်ပြုစု၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်း သိမ်းရေးဝန်ကြီးဌာနသို့တင်ပြ အတည်ပြုချက်ရယူရန်၊

(င) အတည်ပြုပြီးသော နယ်ပယ်အတိုင်းအတာ သတ်မှတ်ခြင်း အစီရင်ခံစာပါအချက်များအပေါ်အခြေခံ၍ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း အပိုဒ် (၆၃) ပါအချက်များနှင့်အညီ **ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းအစီရင်ခံစာ (EIA)** ကိုဆောင်ရွက်ပြီးသယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနသို့ ရေးဆွဲတင်ပြရန်၊

(စ) အထက်ပါလေ့လာဆန်းစစ်မှု ရလဒ်များကိုအခြေခံ၍ ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှု မဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ် စွန့်ပစ်ပစ္စည်း/စွန့်ပစ်အရည် စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေးမည့်အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးစေရေး ဆောင်ရွက်မည့်လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေစသည်တို့ပါဝင်သည့် **ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ်** (En-

vironmental Management Plan-EMP) ကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါ အတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်။

(ဆ) ပြဋ္ဌာန်းထုတ်ပြန်ထားပြီးဖြစ်သောပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ၊ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း၊ အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာ အရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များတွင်ဖော်ပြပါရှိသည့် လိုက်နာဆောင်ရွက်ရမည့်အချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရန်နှင့် တင်ပြရမည့်အစီအစဉ်အလိုက် လိုအပ်သည့်ပုံစံများဖြည့်စွက်၍တစ်ပါတည်းတင်ပြရန်၊

(ဇ) သက်ဆိုင်ရာတိုင်းဒေသကြီးအစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် လုပ်ငန်းဆောင်ရွက်မည့်နေရာဒေသတွင် နေထိုင်သော ဒေသခံပြည်သူများ၏ဆန္ဒနှင့် သဘောထားများကိုလည်းရယူ ဆောင်ရွက်ရန်၊

(အောင်သူကျော်)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင်(ပတ်ဝန်းကျင်)
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

**မိတ္တူကို**

ပြည်ထောင်စုဝန်ကြီးရုံး
သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
ရုံးလက်ခံ

နောက်ဆက်တွဲ-ခ

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
# စက်မှုဝန်ကြီးဌာန

စာအမှတ်၊ ၁၅- စမ(၂) ၂၀၁၈-၂၀၁၉(၁၂၂၈)
ရက်စွဲ၊ ၂၀၁၉ ခုနှစ်၊ ဇန်နဝါရီလ ၁၆ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂.၁.၂၀၁၉ ရက်စွဲပါစာအမှတ်၊ မရက- ၃ / ခ - ၀၃၃ / ၂၀၁၉ ( ၀၀၃ )

၁။ Lin Brother Co.,Ltd မှ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံမြို့သစ်( အရှေ့ပိုင်း )မြို့နယ်၊ စက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ်( ၁၁၂ )၊ မြေကွက်အမှတ်( ၁၆ ) ရှိ မြေဧရိယာ( ၂.၀၂၀ )ဧကတွင် ဆောက်လုပ်ရေးနှင့်စိုက်ပျိုးရေးလုပ်ငန်းသုံး ပလတ်စတစ်ပစ္စည်း အမျိုးမျိုးထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာသည့် ပလတ်စတစ်ပစ္စည်းအမျိုးမျိုးထုတ်လုပ်ခြင်း လုပ်ငန်းအတွက် အသုံးပြုမည့် စက်ပစ္စည်းများနှင့် လေသန့်စင်စနစ်အတွက် အသုံးပြုမည့် စက်ပစ္စည်းများသည် လုပ်ငန်းနှင့်သင့်လျော်မှုရှိ/မရှိ စက်မှုဝန်ကြီးဌာနမှ သဘောထားမှတ်ချက် ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းခဲ့ပါသည်။

၂။ အဆိုပါ ကုမ္ပဏီမှ ဆောင်ရွက်မည့် လုပ်ငန်းများနှင့်ပတ်သက်၍ အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည်-

(က) ဖျာအမျိုးမျိုး၊ ပိုက်ကွန်၊ ပလတ်စတစ်အကြည်၊ ပီနန်ချပ်နှင့် မိုးကာများ ထုတ်လုပ်ရန် စက်များဖြစ်ပါသည်။

(ခ) Extruder Machine ( 20 Nos )မှ ထွက်ရှိသည့် အနံ့အသက်များအား Blower များနှင့် ဆက်သွယ်ထားသော လေပိုက်လိုင်းများမှတစ်ဆင့် Air Purifier အတွင်းသို့ ဖြတ်သန်းစေပြီး ( ၁၆ )ပေ အမြင့်ရှိသော မီးခိုးခေါင်းတိုင်မှ တစ်ဆင့် လေထုအတွင်းသို့ ထုတ်လွှတ်ရန် စီစဉ်ထားကြောင်း တွေ့ရှိရပါသည်။

(ဂ) စက်ပစ္စည်းတန်ဖိုးများမှာ အနီးစပ်ဆုံး မှန်ကန်မှုရှိပါသည်။

(ဃ) စက်များအား တရုတ်နိုင်ငံမှ အများဆုံး တင်သွင်းမည် ဖြစ်ပါသည်။

၃။ သို့ပါ၍ Lin Brother Co.,Ltd မှ အဆိုပြုတင်ပြလာသည့် ဆောက်လုပ်ရေးနှင့် စိုက်ပျိုးရေးလုပ်ငန်းသုံး ပလတ်စတစ်ပစ္စည်း အမျိုးမျိုးထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းနှင့် စပ်လျဉ်း၍ ပလတ်စတစ်ပစ္စည်းအမျိုးမျိုး ထုတ်လုပ်ခြင်းလုပ်ငန်းအတွက် အသုံးပြုမည့် စက်ပစ္စည်းများနှင့် လေသန့်စင်စနစ်အတွက် အသုံးပြုမည့် စက်ပစ္စည်းများသည် လုပ်ငန်းနှင့် သင့်လျော်မှုရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး (ကိုယ်စား)
( ကိုကိုလွင်၊ အမြဲတမ်းအတွင်းဝန်)

မိတ္တူကို

စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန

အမှတ်( ၃ )အကြီးစားစက်မှုလုပ်ငန်း

မျှော်စာတွဲ

ရုံးလက်ခံ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေ

အရ

# လင်းညီအကိုကုမ္ပဏီလီမိတက်

# LIN BROTHER COMPANY LIMITED

မှ

ရန်ကုန်တိုင်းဒေသကြီး

ဒဂုံမြို့သစ်အရှေ့ပိုင်း၊မြေတိုင်းရပ်ကွက်အမှတ်(၁၁၂)

စက်မှုဇုန်မြေကွက်အမှတ်(၁၆)၊မြေ(၂)ကောပေါ်တွင်

ဆောက်လုပ်ရေးနှင့်စိုက်ပျိုးရေးလုပ်ငန်းသုံး

ပလတ်စတစ် ပစ္စည်းအမျိုးမျိုး

ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း

'အဆိုပြုလွှာ တင်ပြချက်'

# Lin Brother Company Limited

အဆိုပြုလွှာတင်ပြချက်

**အညွှန်း**

# LIN BROTHER Co., Ltd.

**No.24, Shwe Dagon Pagoda Road, Pabedan Township, Yangon, Myanmar.**
**Tel :01-246638,-372107, +95 778100073~76, E-mail : htetlm@gmail.com**


Lin Brother Company Limited
No ..............
Date..............

---

သို့

ဥက္ကဌ၊
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊
ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ရန်ကုန်မြို့။

ရက်စွဲ။ ။၂၀၁၈ ခုနှစ်၊ ဒီဇင်ဘာလ ( ၁၈ )ရက်

အကြောင်းအရာ။ ။ပလပ်စတစ်ပစ္စည်းအမျိုးမျိုးထုတ်လုပ်ရောင်းချ ခြင်းလုပ်ငန်းအား ရင်းနှီး၊ မြှုပ်နှံ လုပ်ကိုင်ဆောင်ရွက်ခွင့် ပေးပါရန်တင်ပြခြင်း။

အထက်ဖော်ပြပါကိစ္စနှင့်စပ်လျဉ်း၍ ကျွန်တော်များ မြန်မာနိုင်ငံသား၊တိုင်းရင်းသား လုပ်ငန်းရှင်များမှ ပိုင်ဆိုင်သော လင်းညီအကိုကုမ္ပဏီလီမိတက်(Lin Brother Company Limited) မှ ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံမြို့သစ် (အရှေ့ပိုင်း)၊မြေတိုင်းရပ်ကွက်အမှတ် (၁၁၂)၊စက်မှုဇုန် မြေကွက် အမှတ်(၁၆)၊ မြေ( ၂ )ဧက ပေါ်တွင် ပလပ်စတစ်ပစ္စည်း အမျိုးမျိုး(ဆောက်လုပ်ရေး နှင့်စိုက်ပျိုးရေး လုပ်ငန်းသုံးပလပ်စတစ်ပိုက်ကွန်အမျိုးမျိုး၊ပလပ်စတစ်ဖျာအမျိုးမျိုး၊ပလပ်စတစ်ဖြူကြည်နှင့်ပီနံချပ်အမျိုးမျိုး) ထုတ်လုပ်ရောင်းချ ခြင်းလုပ် ငန်းအား ရင်းနှီး၊ မြှုပ်နှံ လုပ်ကိုင်မည် ဖြစ်ပါသည်။ ဤသို့ ရင်းနှီးမြှုပ်နှံသော လုပ်ငန်းရပ်မှ မြန်မာနိုင်ငံသားများအတွက် အလုပ်အကိုင်၊ အခွင့်အလမ်းများ ရရှိစေခြင်း၊ နိုင်ငံတော်တွင် အခွန်အခ များရရှိစေခြင်းနှင့် နိုင်ငံခြားသွင်းကုန်ဖြစ်သော ဆောက်လုပ် ရေးနှင့်စိုက်ပျိုးရေး လုပ်ငန်းသုံး ပလပ်စတစ် ပိုက်ကွန်အမျိုးမျိုး၊ ပလပ်စတစ်ဖျာအမျိုးမျိုး၊ ပလပ်စတစ်ဖြူကြည်နှင့် ပီနံချပ်အမျိုးမျိုး များအားနိုင်ငံခြားသွင်းကုန်အစားထိုးရောင်းချနိုင်ပြီးမြန်မာနိုင်ငံသားများမှ ဈေးနှုန်းသက်သာစွာ ဝယ်ယူသုံးစွဲနိုင် ခြင်းစသည့်အခွင့်အရေးများ ရရှိနိုင်မည့်လုပ်ငန်းရပ်အား မြန်မာနိုင်ငံ ရင်းနှီးမြှုပ်မှု ဥပဒေအရ ခွင့်ပြုပေးပါရန် တင်ပြ၊ လျှောက်ထားအပ်ပါသည်။

လေးစားစွာဖြင့်

Soe Myint
Managing Director
Lin Brother Company Limited

ပုံစံ (၂)

ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော်အတွင်း ရင်းနှီးမြှုပ်နှံမှုပြုလုပ်ရန်
ရင်းနှီးမြှုပ်နှံသူ၏အဆိုပြုချက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ် ၊ LB-042 / MIC-01/ 2018
ရက်စွဲ ၊ ၂၀၁၈ ခုနှစ်၊ ဒီဇင်ဘာ လ ( ) ရက်

ကျွန်တော်/ကျွန်မသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၃၆ နှင့်အညီ ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော်အတွင်း ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုပါသဖြင့် ခွင့်ပြုပါရန် အောက်ပါအချက်အလက်များကို ဖော်ပြ၍ လျှောက်ထားအပ်ပါသည်-

၁။ ရင်းနှီးမြှုပ်နှံသူ၏ -

(က) အမည် — ဦးစိုးမြင့်

(ခ) အဖအမည် — ဦးဟန်ကြူး

(ဂ) နိုင်ငံသားစိစစ်ရေးကတ်အမှတ်/ နိုင်ငံကူးလက်မှတ်အမှတ်

(ဃ) နိုင်ငံသား — မြန်မာနိုင်ငံသား

(င) နေရပ်လိပ်စာ

(၁) ပြည်တွင်း — အမှတ် (၁)၊ ဇောတိကလမ်း၊ ၁၆/၂ ရပ်ကွက်၊ သင်္ဃန်းကျွန်းမြို့နယ်၊ရန်ကုန်တိုင်းဒေသကြီး။
No.(1),Zaw Ti Ka Street,16/2 Block, Thingangyun Township, Yangon.

(၂) ပြည်ပ — -

(စ) တယ်လီဖုန်း/ဖက်စ် — +95 1 246638

(ဆ) အီးမေးလ်လိပ်စာ — - htetlm@gmail.com

(ဇ) ပင်မကုမ္ပဏီအမည် — -Lin Brother Co., Ltd.

(ဈ) ပင်မကုမ္ပဏီတည်ရှိရာလိပ်စာ — -No.24, Shwe Dagon Pagoda Road, Pabedan Township,Yangon, Myanmar.

(ည) လုပ်ငန်းအမျိုးအစား — ပလတ် စတစ် ပစ္စည်းအမျိုးမျိုးထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း။(ပလပ်စတစ်ဖျာ၊ဆောက်လုပ်ရေးနှင့် စိုက်ပျိုးရေး လုပ်ငန်းသုံးပိုက်ကွန်၊ပလပ်စတစ်ဖြူကြည်နှင့်ပီနံချပ်အမျိုးမျိုး)
Production and marketing of Plastic Product.(Plastic Mat, Plastic Nets, Plastic Film, woven ready made Sheet etc.)

၂။ ဖက်စပ်ပြုလုပ်၍ ရင်းနှီးမြှုပ်နှံလိုပါကရင်းနှီးမြှုပ်နှံသူနှင့် ဖက်စပ်ပြုလုပ်မည့် သူများ၏ -

(က) အမည် -

(ခ) အဖအမည် -

(ဂ) နိုင်ငံသားစိစစ်ရေးကတ်အမှတ်/ -
နိုင်ငံကူးလက်မှတ်အမှတ်

(ဃ) နိုင်ငံသား -

(င) နေရပ်လိပ်စာ

(၁) ပြည်တွင်း -

(၂) ပြည်ပ -

(စ) ပင်မကုမ္ပဏီအမည် -

(ဆ) ပင်မကုမ္ပဏီတည်ရှိရာလိပ်စာ -

မှတ်ချက်။ အထက်အပိုဒ် ၁၊ ၂ တို့နှင့် စပ်လျဉ်း၍ အောက်ပါအချက်များကို ပူးတွဲတင်ပြရန်-

(၁) ကုမ္ပဏီမှတ်ပုံတင်အထောက်အထားများ (မိတ္တူ)

(၂) နိုင်ငံသားစိစစ်ရေးကတ်အမှတ် (မိတ္တူ) နှင့် နိုင်ငံကူးလက်မှတ် (မိတ္တူ)

(၃) အဆိုပြုလုပ်ငန်းတွင် ပါဝင်လိုသူများ၏ လုပ်ငန်းပိုင်းနှင့် ငွေရေးကြေးရေး ဆိုင်ရာအထောက်အထားများ

၃။ ရင်းနှီးမြှုပ်နှံသူကိုယ်တိုင် လျှောက်ထားခြင်းမဟုတ်ပါက လျှောက်ထားသူ၏ -

(က) အမည် -

(ခ) ဆက်သွယ်ရမည့်ပုဂ္ဂိုလ်အမည် -
(လျှောက်ထားသူသည် စီးပွားရေးအဖွဲ့အစည်းဖြစ်ပါက)

မှတ်ချက်။ တရားဝင်ကိုယ်စားလှယ်လွှဲစာပူးတွဲတင်ပြရန်

(ဂ) နိုင်ငံသားစိစစ်ရေးကတ်အမှတ်/ -
နိုင်ငံကူးလက်မှတ်အမှတ်

(ဃ) နိုင်ငံသား -

(င) မြန်မာနိုင်ငံတွင်နေထိုင်သည့် -
နေရပ်လိပ်စာ

(စ) တယ်လီဖုန်း/ဖက်စ် -

(ဆ) အီးမေးလ်လိပ်စာ -

၄။ ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့် လုပ်ငန်းအမျိုးအစား

ပလတ် စတစ် ပစ္စည်းအမျိုးမျိုးထုတ်လုပ်ရောင်းချခြင်း လုပ်ငန်း။(ပလပ်စတစ်ဖျာ၊ဆောက်လုပ်ရေးနှင့် စိုက်ပျိုးရေး လုပ်ငန်းသုံးပိုက်ကွန်၊ပလပ်စတစ်ဖြူကြည်နှင့်ပီနံချပ်အမျိုးမျိုး)

Production and marketing of Plastic Product.(Plastic Mat, Plastic Nets, Plastic Film, woven ready made Sheet etc.)

၅။ ဖွဲ့စည်းမည့် စီးပွားရေးအဖွဲ့အစည်းပုံသဏ္ဍာန်

ရာခိုင်နှုန်းပြည့် ဖက်စပ်ပြုလုပ်ခြင်း (ဖက်စပ်စာချုပ်မူကြမ်းတင်ပြရန်)

အခြားသဘောတူညီချက်ပုံစံတစ်မျိုးမျိုးဖြင့် ဆောင်ရွက်ခြင်း (စာချုပ်မူကြမ်းတင်ပြရန်)

၆။ အစုရှယ်ယာရှင်များစာရင်း

| စဉ် | အစုရှယ်ယာရှင်အမည် | နိုင်ငံသား | အစုရှယ်ယာပိုင်ဆိုင်မှု % |
|---|---|---|---|
| ၁။ | ဦးစိုးမြင့် | မြန်မာ | 70% |
| ၂။ | ဒေါ်ညွန့်ညွန့်ရီ | မြန်မာ | 10% |
| ၃။ | ဦးလင်းလင်းကျော်မျိုး | မြန်မာ | 10% |
| ၄။ | ဦးထက်လင်းမော် | မြန်မာ | 10% |

၇။ ကုမ္ပဏီဖွဲ့စည်းခြင်းနှင့်သက်ဆိုင်သောအချက်အလက်များ

(က) ခွင့်ပြုမတည်ငွေရင်း ၁၀၀,၀၀၀,၀၀၀ ကျပ်

(ခ) အစုရှယ်ယာအမျိုးအစား သာမာန်

(ဂ) အစုရှယ်ယာဝင်များက ထည့်ဝင်မည့် အစုရှယ်ယာပမာဏ ၁၀၀ Share

မှတ်ချက်။ သင်းဖွဲ့မှတ်တမ်း/သင်းဖွဲ့စည်းမျဉ်း သို့မဟုတ် ဖွဲ့စည်းပုံအခြေခံစည်းမျဉ်းပူးတွဲတင်ပြရန်။

၈။ မတည်ငွေရင်းနှင့်သက်ဆိုင်သည့်အချက်အလက်များ - MIC ခွင့်ပြုမိန့် ရရှိပြီး ( ၁ ) နှစ်အတွင်း ကျပ်/US$(သန်းပေါင်း)

| | နိုင်ငံခြားငွေ USD (သန်းပေါင်း) | ညီမျှသည့်ခန့်မှန်းငွေကျပ် (သန်းပေါင်း) |
|---|---|---|
| (က) ပြည်တွင်းမှထည့်ဝင်မည့် မတည်ငွေရင်း ပမာဏ/ ရာခိုင်နှုန်း | - | ၈၅၄၈.၉၄ (ကျပ်သန်းပေါင်း) |
| (ခ) နိုင်ငံခြားမှ ယူဆောင်လာမည့် မတည်ငွေရင်း ပမာဏ/ ရာခိုင်နှုန်း | - | - |
| စုစုပေါင်း | - | ၈၅၄၈.၉၄ (ကျပ်သန်းပေါင်း) |

(ဂ) အဆိုပြုမတည်ငွေရင်းနှစ်အလိုက်ထည့်ဝင်မည့်အခြေအနေ/ ယူဆောင်လာမည့်ကာလ MIC ခွင့်ပြုမိန့်ရရှိပြီး(၂)နှစ်အတွင်း

(ဃ) ရင်းနှီးမြှုပ်နှံမှုတန်ဖိုး/ပမာဏ ၈၅၄၈.၉၄ (ကျပ်သန်းပေါင်း)

(င) ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့်သက်တမ်း (၁၀)နှစ်။

(စ) ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းတည်ဆောက်မှုကာလသို့မဟုတ် ပြင်ဆင်မှုကာလ ၂ - နှစ်

မှတ်ချက်။ အပိုဒ် ၈(င) နှင့် စပ်လျဉ်း၍ ထူးခြားသည့် အခြေအနေရှိပါက နောက်ဆက်တွဲဖြင့် ဖော်ပြပါရန်

၉။ နိုင်ငံခြားမှ ယူဆောင်တင်သွင်းလာမည့် မတည်ငွေရင်း၏ အသေးစိတ်စာရင်း-

| | | နိုင်ငံခြားငွေ (သန်းပေါင်း) | ညီမျှသည့်ခန့်မှန်းငွေကျပ် (သန်းပေါင်း) |
|---|---|---|---|
| (က) | နိုင်ငံခြားငွေ (အမျိုးအစားနှင့်တန်ဖိုးပမာဏ) | မရှိပါ | မရှိပါ |
| (ခ) | စက်ပစ္စည်းများ၊ စက်ကိရိယာများ စသည့်ပစ္စည်းတို့၏ တန်ဖိုးပမာဏ (အသေးစိတ်စာရင်းပူးတွဲတင်ပြရန်) | မရှိပါ | မရှိပါ |
| (ဂ) | ကနဦးကုန်ကြမ်းပစ္စည်းများနှင့် အခြားအလားတူပစ္စည်းများ၏ တန်ဖိုးပမာဏ (အသေးစိတ်စာရင်းပူးတွဲတင်ပြရန်) | မရှိပါ | မရှိပါ |
| (ဃ) | လိုင်စင်၊ တီထွင်မှုပိုင်ဆိုင်ခွင့်၊ စက်မှုဒီဇိုင်း၊ ကုန်အမှတ်တံဆိပ်၊ မူပိုင်ခွင့်စသည့် အသိဉာဏ်ဆိုင်ရာပစ္စည်းများကိုတန်ဖိုးဖြတ်နိုင်သောအခွင့်အရေးများ၏ တန်ဖိုးပမာဏ | မရှိပါ | မရှိပါ |
| (င) | ကျွမ်းကျင်မှုနည်းပညာရပ်များ၏ တန်ဖိုးပမာဏ | မရှိပါ | မရှိပါ |
| (စ) | အခြား (ဥပမာ-ဆောက်လုပ်ရေး လုပ်ငန်းသုံးပစ္စည်းများ) | မရှိပါ | မရှိပါ |
| | စုစုပေါင်း | မရှိပါ | မရှိပါ |

မှတ်ချက်။ အပိုဒ် ၉ (ဃ) (င) တို့နှင့် စပ်လျဉ်း၍ အသုံးပြုခွင့် အထောက်အထားများ ပူးတွဲတင်ပြရန်။

၁၀။ ပြည်တွင်းမှထည့်ဝင်မည့် မတည်ငွေရင်း၏ အသေးစိတ်စာရင်း -

| | | နိုင်ငံခြားငွေ (သန်းပေါင်း) | ညီမျှသည့်ခန့်မှန်းငွေကျပ် (သန်းပေါင်း) |
|---|---|---|---|
| (က) | ငွေပမာဏ | မရှိပါ | ၆၀၅၃.၈၄ |
| (ခ) | စက်ပစ္စည်းကိရိယာများတန်ဖိုးပမာဏ (အသေးစိတ်စာရင်းပူးတွဲတင်ပြရန်) | မရှိပါ | ၇၉၉.၅၀ |
| (ဂ) | မြေ/အဆောက်အအုံ တန်ဖိုး သို့မဟုတ် ငှားရမ်းခ | - | - |
| (ဃ) | အဆောက်အအုံဆောက်လုပ်မှုကုန်ကျစရိတ် | မရှိပါ | ၁၆၉၅.၆၀ |
| (င) | ပရိဘောဂနှင့် လုပ်ငန်းသုံးပစ္စည်းများ တန်ဖိုးပမာဏ (အသေးစိတ်စာရင်းပူးတွဲတင်ပြရန်) | မရှိပါ | မရှိပါ |
| (စ) | ကနဦးကုန်ကြမ်းပစ္စည်းတန်ဖိုးပမာဏ (အသေးစိတ်စာရင်းပူးတွဲတင်ပြရန်) | မရှိပါ | မရှိပါ |
| (ဆ) | အခြား | | |
| | စုစုပေါင်း | - | ၈၅၄၈.၉၄ |

၁၁။ ဈေးငွေနှင့်သက်ဆိုင်သည့် အချက်အလက်များ -

| | ကျပ် | အမေရိကန်ဒေါ်လာ |
|---|---|---|
| - ပြည်တွင်းဈေးငွေ | မရှိပါ | မရှိပါ |
| - ပြည်ပဈေးငွေ | မရှိပါ | မရှိပါ |

၁၂။ ဆောက်ရွက်မည့် စီးပွားရေးအဖွဲ့အစည်းနှင့် သက်ဆိုင်သောအချက်အလက်များ -

(က) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်ဒေသ(များ)/တည်နေရာ — မြေကွက်အမှတ် - (၁၆)၊ မြေတိုင်းရပ်ကွက်အမှတ် (၁၁၂)၊ ဒဂုံမြို့သစ် (အရှေ့ပိုင်း) မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။

(ခ) မြေ သို့မဟုတ် မြေနှင့်အဆောက်အအုံနေရာအမျိုးအစားနှင့် အကျယ်အဝန်းလိုအပ်ချက်

(၁) တည်နေရာ — မြေကွက်အမှတ် - (၁၆)၊ မြေတိုင်းရပ်ကွက်အမှတ် (၁၁၂)၊ ဒဂုံမြို့သစ် (အရှေ့ပိုင်း) မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။

